Myanmar Rice Trading Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်တွင် သစ်ပါးလွှာ၊ အထပ်သား နှင့် သစ်အခြေခံ ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar Rice Trading Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်အေးသန္တာ (အဘ-ဦးသန့်ဇင်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ(private company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်ပါးလွှာ၊ အထပ်သား နှင့် သစ်အခြေခံ ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၄၉)၊ မြေကွက် အမှတ်(၈၂)၊ (၈၃)၊ (၈၄)၊ (၈၅)၊ (၈၆)၊ (၈၇)၊ (၈၈) တို့ ရှိ မြေ ဧရိယာ(၂၀.၁၈၉)ဧကတွင် ဆောင်ရွက် မည် ဖြစ်ပါ သည်။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၃၀)နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ | - **ကျပ် ၁၂၃၃၂.၇၅ သန်း (US$ ၇.၆၅ သန်း အပါအဝင်)** |
| ၈။ | ငွေသား<br>မြေ<br>အဆောက်အဦ<br>စက်ပစ္စည်းကိရိယာများ<br>ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ<br>ကနဦးကုန်ကြမ်း<br>အခြားကုန်ကျစရိတ် | ကျပ် ၁၀၀.၀၀ သန်း<br>ကျပ် ၅၅၅.၀၀ သန်း<br>ကျပ် ၂၈၂၂.၀၀ သန်း<br>ကျပ် ၅၀၉၃.၀၀ သန်း (US$ ၅.၀၀ သန်း)<br>ကျပ် ၇၅.၀၀ သန်း<br>ကျပ် ၂၅၈၃.၇၅ သန်း (US$ ၂.၆၅ သန်း)<br>ကျပ် ၁၁၀၄.၀၀ သန်း |
| ၉။ | တည်ဆောက်ရေးကာလ | - (၁၂)လ |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်(၂၅%)<br>ကုန်သွယ်လုပ်ငန်းခွန် (၅%) | <br>- ကျပ် ၁၂၆၉.၉၉ သန်း<br>- ကျပ် ၉၃.၆၁ သန်း |
| ၁၁။ | ရောင်းချပုံနည်းစနစ် | - ပြည်တွင်း ၁၀ % နှင့် ပြည်ပသို့ ၉၀ % တင်ပို့ ရောင်းချ မည် ဖြစ်ပါသည်။ |
| ၁၂။ | လုပ်သားအင်အား | - ပြည်တွင်း- ၃၅၀ ဦး<br>- ပြည်ပ - ၁၀ ဦး |
| ၁၃။ | စိစစ်တွေ့ရှိချက် | - ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းတွင် အသုံးပြုရန်အတွက် တစ်ဖက်ပါ ယာဉ်/ယန္တရားများအား ပြည်ပမှ တင်သွင်း မည်ဖြစ်ကြောင်း တင်ပြထားပါသည်- |

ကန့်သတ်

| စဉ် | အမျိုးအစား | အရေအတွက် (စီး) | ဈေးနှုန်း US$ | တန်ဖိုး US$ |
|---|---|---|---|---|
| (က) | 30 Ton Moble Crane | ၂ | ၂၃,၄၀၀ | ၄၆,၈၀၀ |
| (ခ) | Log Loader | ၂ | ၅၀,၀၀၀ | ၁၀၀,၀၀၀ |
| (ဂ) | Fork Lift Truck | ၂ | ၃၁,၈၁၃ | ၆၃,၆၂၆ |
| (ဃ) | 10 Wheel Truck | ၁ | ၈၀,၀၀၀ | ၈၀,၀၀၀ |
| | စုစုပေါင်း | ၇ | | ၂၉၀,၄၂၆ |

- ကုန်ကြမ်း သုံးစွဲမှု နှင့်စပ်လျဉ်း၍ မြန်မာ့သစ်လုပ်ငန်းထံတွင် လက်ရှိ အခြေအနေအရ သစ်မာနှစ်စဉ် တောထွက် ခွင့်ပြုပမာဏ များပြားသဖြင့် အဆိုပြုလွှာပါ လိုအပ်ချက်ကို အိတ်ဖွင့်တင်ဒါတွင် ဝယ်ယူ ရရှိနိုင်သော်လည်း ရေရှည်တွင် ကုန်ကြမ်းသုံးစွဲမှု သေချာ ရေရာစေရန် အတွက် ကုမ္ပဏီပိုင် စိုက်ခင်းများ ထူထောင်သွားရန် ဖြစ်ပါကြောင်း မြန်မာ့သစ်လုပ်ငန်းမှ သဘောထား ပြန်ကြားထားပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၃၅၉/၂၀၁၃ (၁၆၈၈၂-ခ)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် စက်တင်ဘာ လ ၂၁ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Myanmar Rice Trading Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်တွင် သစ်ပါးလွှာ၊ အထပ်သား နှင့် သစ်အခြေခံ ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myanmar Rice Trading Co., Ltd. သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၄၉)၊ မြေကွက်အမှတ်(၈၂)၊ (၈၃)၊ (၈၄)၊ (၈၅)၊ (၈၆)၊ (၈၇)၊ (၈၈)တို့ရှိ မြေဧရိယာ(၂၀.၁၈၉)ဧကတွင် သစ်ပါးလွှာ၊ အထပ်သား နှင့် သစ်အခြေခံ ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးသန္တာ (အဘ-ဦးသန့်ဇင်) မှ အဆိုပြုချက် တင်ပြခြင်းကို လက်ခံ ရရှိခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်းနေရာသည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဦးရဲအောင်အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်ဖြစ်ပြီး ဦးရဲအောင်ထံမှ Myanmar Rice Trading Co., Ltd. မှ အပြီးအပိုင် ဝယ်ယူပြီး စာချုပ်များ တင်ပြထားပါသည်။ Myanmar Rice Trading Co., Ltd. အမည်ဖြင့် ဂရန် လျှောက်ထားဆဲဖြစ်ကြောင်း မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ထောက်ခံ တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းမှာ နှစ် (၃၀)ခန့် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၁၂)လ ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၇.၆၅) သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၂၃၃၂.၇၅) သန်း ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများ နှင့် ကနဦးကုန်ကြမ်း တန်ဖိုးများအတွက် အမေရိကန် ဒေါ်လာ (၇.၆၅) သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငွေသား ကျပ် ၁၀၀.၀၀ သန်း

(ခ) မြေ ကျပ် ၅၅၅.၀၀ သန်း

(ဂ) အဆောက်အဦ ကျပ် ၂၈၂၂.၀၀ သန်း

(ဃ) စက်ပစ္စည်းကိရိယာများ ကျပ် ၅၀၉၃.၀၀ သန်း (US$ ၅.၀၀ သန်း)

(င) ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ ကျပ် ၇၅.၀၀ သန်း

(စ) ကနဦးကုန်ကြမ်း ကျပ် ၂၅၈၃.၇၅ သန်း (US$ ၂.၆၅ သန်း)

(ဆ) အခြားကုန်ကျစရိတ် ကျပ် ၁၁၀၄.၀၀ သန်း

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၁၂၃၃၂.၇၅ သန်း (US$ ၇.၆၅ သန်း အပါအဝင်)**

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၃၅၀)ဦး နှင့် ပြည်ပ ဝန်ထမ်း(၁၀)ဦး ခန့် ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း (၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၉၀,၀၀၀) ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ ကျပ် (၂၅၀,၀၀၀) ဖြစ်ပါသည်။ ပြည်ပ ပညာရှင် ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ US$ (၃၀၀) ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$(၂၀၀၀)ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ သစ်ပါးလွှာ(Veneer)၊ အထပ်သား (Plywood)နှင့် သစ်အခြေခံ ပစ္စည်း အမျိုးမျိုး ကုန်ချောများကို ပြည်တွင်း၌ ၁၀% နှင့် ပြည်ပသို့ ၉၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် သစ်ပါးလွှာ(Veneer)၊ အထပ်သား (Plywood)နှင့် သစ်အခြေခံ ပစ္စည်းအမျိုးမျိုး ကုန်ချောများ ထုတ်လုပ်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု | ပြည်ပ ရောင်း ဈေးနှုန်း (US$) | ပြည်တွင်းရောင်း ဈေးနှုန်း(ကျပ်) |
|---|---|---|---|---|---|
| (က) | Plywood | Ton | ၈,၀၄၀ | ၉၉၆ | ၆၂၂,၁၈၇ |
| (ခ) | Venner | Ton | ၈,၀၅၀ | ၆၀၈ | ၁,၀၂၀,၃၈၇ |
| (ဂ) | S4S 35 % | Ton | ၃,၆၇၆ | ၃၈၂၉ | ၁,၀၂၀,၀၂၅ |
| | T & G 10% | Ton | ၁၀၅၀ | ၃၁၉၀ | ၈၉၃,၃၉၈ |
| | Lumberparquet 10% | Ton | ၁၀၅၀ | ၂၅၅၃ | ၇၆၅,၇၆၉ |

Venner နှင့် Plywood တို့အတွက် သစ်မာ ကုန်ကြမ်း ၁တန်အား ကုန်ချောထုတ်လုပ်ပါက ၇၀% သာ ကုန်ချောအဖြစ် ကျန်ရှိမည် ဖြစ်ပြီး သစ်အခြေခံ ပစ္စည်းအမျိုးမျိုးတို့အတွက် ကုန်ကြမ်း ကျွန်း ၁တန်အား ကုန်ချော ၅၅% သာ ထွက်ရှိပြီး ကုန်ချော ၅၅% အပေါ်တွင် S4S 35% , T & G 10%, Lumberparquet 10% ထုတ်လုပ်မည် ဖြစ်ပါသည်။

၇။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၉၇၅ကျပ်

| စဉ် | | နိုင်ငံခြား ငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၉.၇၀ | ၂၈၀၆၆.၅၀ | ၁၈၇၂.၂၂ | ၃၀၈၃၃.၆၂ |
| (ခ) | အသုံးစရိတ် | ၂၀.၆၆ | ၁၉၅၂၃.၇၀ | ၅၆၀၃.၃၃ | ၂၇၀၂၃.၆၅ |
| (ဂ) | အသားတင် အမြတ် | ၉.၀၄ | ၈၅၄၂.၈၀ | (-)၃၇၃၀.၁၁ | ၃၈၀၉.၉၇ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၉၃.၆၁)သန်း နှင့် ဝင်ငွေခွန် ကျပ် (၁၂၆၉.၉၉)သန်း ရရှိမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ(၅)နှစ် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)မှာ ၂၀ % ဖြစ်ပါသည်။

၉။ အဆိုပြုချက်နှင့်စပ်လျဥ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းများထံ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

**(က)ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့(နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက လုပ်ငန်းဆောင်ရွက်ချိန် ဝန်ထမ်း(၃၅၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်ပါကြောင်း၊

(၃) အဆိုပြု မြေနေရာအား သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်နိုင်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊

(၅) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏(၃၇/၂၀၁၃) (၁၂-၉-၂၀၁၃) အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ်(၂၇)အရ Myanmar Rice Trading Co., Ltd. ၏ မြန်မာ

နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းအသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်း လည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်း အစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊

(၂) သစ်ခွဲသား၊ သစ်ပါးလွှာ၊ အထပ်သားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃၁-၁-၂၀၁၃ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ အရ ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်း အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်း စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) အားရေးဆွဲ၍ အဆိုပါ အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) သစ်ပါးလွှာနှင့် အထပ်သား ထုတ်လုပ်ရာတွင် အသုံးပြုမည့် စက်ပစ္စည်းကိရိယာများ၊ သစ်ခွဲစက်၊ သစ်ပါးလွှာစက်များအား သစ်တောဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ သက်ဆိုင်ရာ သစ်တောဦးစီးဌာနသို့ ခွင့်ပြုမိန့် လိုင်စင် လျှောက်ထားရန်၊

(၅) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့် အခြားပတ်ဝန်းကျင် ထိန်းသိမ်းရေး

ဆိုင်ရာ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၆) ရေရှည်တွင် ကုန်ကြမ်းသုံးစွဲမှု သေချာစေရန်အတွက် ကုမ္ပဏီပိုင် သစ်တောစိုက်ခင်းများ ထူထောင်စိုက်ပျိုး အသုံးပြုသွားရန်၊

(၇) အဆိုပြုလွှာတွင် ဖော်ပြထားသော ကုန်ချောထွက်ရှိမှု ရာခိုင်နှုန်းရရှိရန် အတွက် အတန်းအစား(Grading)မြင့် သစ်လုံးကုန်ကြမ်း ရရှိရေးအတွက် ကုမ္ပဏီမှ အထူးကြိုးပမ်း ဆောင်ရွက်ရန်၊

(၈) အကယ်၍ အလုပ်ချိန် (၈)နာရီ (၂-လှည့်) သို့ (၃-လှည့်)ဖြင့် ထုတ်လုပ်မှု ဆောင်ရွက်မည်ဆိုပါက ဝန်ထမ်းဦးရေ တိုးချဲ့ခန့်ထားရန်၊

(၉) တင်ပြထားသည့် ကုန်ချော ထွက်ရှိမှုနှုန်း ကျွန်း(၅၅%)၊ သစ်မာ(၇၀%) ရရှိနိုင်ရန်အတွက် အတန်းအစား(Grading)မြင့်သော ကုန်ကြမ်းသစ်လုံးကို အထူးကြိုးပမ်းရှာဖွေ ဖြည့်ဆည်းရမည်ဖြစ်ရာ အဆိုပြုလွှာတွင် ဖော်ပြထားသော 10 Wheel Truck တွင် ထပ်မံ၍ (၁)စီး တိုးရန်နှင့် ကုန်ထုတ်လုပ်မှု မြန်ဆန်သွက်လက်စေရန် Fork-lift တွင် နောက်ထပ်(၁)စီး တိုးမြှင့်ရန်၊

(၁၀) အဆိုပြုလွှာတွင် ဖော်ပြထားသော ထုတ်ကုန်များ ဖြစ်သည့် S4S ၊ T&G ၊ Lumberparquet တို့အပြင် တံခါးနှင့် ပရိဘောဂများကဲ့သို့ တန်ဖိုးမြင့် ထုတ်ကုန်များ ထုတ်၍ End Use Market သို့ ဝင်ရောက်နိုင်မှသာ ဈေးနှုန်းပိုမိုကြီးမြင့်လာနိုင်ပြီး ကုမ္ပဏီ၏ ဝင်ငွေနှင့် အရှုံးအမြတ်ကို အထောက်အကူပေးနိုင်ရန်၊

**( ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကုမ္ပဏီပိုင် သစ်တော စိုက်ခင်းများ ထူထောင်စိုက်ပျိုးသွားမည်ဖြစ်ပြီး ကနဦး ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု ဆန်းစစ်ခြင်း** (Environmental Impact Assessment – EIA) **ပတ်ဝန်းကျင် ထိန်းသိမ်း စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan – EMP) **အစီရင်ခံစာအား** Green Myanmar Environmental Services Co., Ltd. **မှ ဆန်းစစ်၍ တင်ပြမည် ဖြစ်ပါကြောင်း (၂၀-၉-၂၀၁၃) ရက်စွဲပါ စာဖြင့် တင်ပြထားပါသည်။)**

(ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း **(နောက်ဆက်တွဲ - ဂ)**

(၁) ရန်ကုန်မြို့တွင် တည်ဆောက်မည့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများ နှင့် အညီ တည်ဆောက်ရန် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊

(၂) ပြည်ပမှ တင်သွင်းမည့် စာရင်းတွင် အဓိကပစ္စည်းများ ဖြစ်သော ဘိလပ်မြေနှင့် သံချောင်းလုံးများကို ထည့်သွင်းဖော်ပြထားခြင်းမရှိပါကြောင်း၊

(၃) အဆောက်အဦအတွက် တင်ပြထားသော ပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခု တွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေ အတွက်နှင့် ကွာခြားနိုင်သဖြင့် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန် လိုအပ်ပါ ကြောင်း၊

**(စက်ရုံ အဆောက်အဦအတွက် ဘိလပ်မြေနှင့် သံချောင်းလုံးများကို ပြည်တွင်းမှ ဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။)**

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် United Amara Bank Ltd. ၌ (၂၃-၇-၂၀၁၃)ရက်နေ့ရှိ ငွေလက်ကျန်မှာ ကျပ်(၃၇၁၁.၀၁)သန်းဖြစ်ကြောင်း တင်ပြထားရာ သုံးစွဲမည့် ကျပ် (၄၈၇၄.၀၀)သန်းအတွက် ၇၆.၁၃ % ရှိကြောင်း တင်ပြထားပြီး၊ နိုင်ငံခြားငွေ အထောက် အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် MFTB ဘဏ်၌ (၂၉-၈-၂၀၁၃)ရက်နေ့ရှိ ငွေလက်ကျန်မှာ US$ (၂.၁၉)သန်း ရှိကြောင်း တင်ပြထားရာ သုံးစွဲမည့် နိုင်ငံခြားငွေ US$(၇.၆၅)သန်းအတွက် ၂၈.၆၃ % တင်ပြနိုင်ကြောင်း စိစစ်ရပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ထွက်ရှိလာသော ကုန်ချောပစ္စည်းများအတွက် ပြည်ပ သို့ တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ပါကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ လုပ်ငန်းခွင်ဘေးအန္တရာယ် မဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက် ထားမည်ဖြစ်ပါ ကြောင်း၊ နိုင်ငံတော်မှ သတ်မှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း စည်းကမ်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး

ညွှန်ကြားမှု ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည်ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် လစာငွေ ကျပ် ၁,၄၄၀,၀၀၀ နှင့် အထက်ရရှိသည့် ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူပေးဆောင်မည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၂။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးအတွက် ဝန်ထမ်းများအား ကြိုပို့ယာဉ် နှင့် အစားအသောက်များ စီစဉ်ပေးခြင်း၊ နှစ်တိုးလစာများ စီစဉ်ပေးခြင်း၊ အချိန်ပိုဆင်းကြေးများ ချီးမြှင့်ပေးခြင်း၊ ဆုကြေး ခံစားခွင့်ပေးခြင်း၊ ဆေးကုသခွင့်နှင့် ဆေးကုသစရိတ်များ ထုတ်ပေးခြင်း၊ အကြွေးဝယ်ယူခွင့် ရရှိရေးအတွက် United Amara Bank Ltd. ၌ ချိတ်ဆက် ပေးခြင်း တို့ကိုဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင် Generator ဖြင့် အသုံးပြုမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ (က၊ဂ၊ဃ၊စ၊ဆ၊ဇ၊ဈ၊ည၊ဠ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၅။ **စိစစ်တင်ပြချက်။**

(က) ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းတွင် အသုံးပြုရန်အတွက် အောက်ပါ ယာဉ်/ယန္တရားများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (စီး) | ဈေးနှုန်း US$ | တန်ဖိုး US$ |
|---|---|---|---|---|
| (က) | 30 Ton Moble Crane | ၂ | ၂၃,၄၀၀ | ၄၆,၈၀၀ |
| (ခ) | Log Loader | ၂ | ၅၀,၀၀၀ | ၁၀၀,၀၀၀ |
| (ဂ) | Fork Lift Truck | ၂ | ၃၀,၈၁၃ | ၆၁,၆၂၆ |
| (ဃ) | 10 Wheel Truck | ၁ | ၈၀,၀၀၀ | ၈၀,၀၀၀ |
| | စုစုပေါင်း | ၇ | | ၂၈၈,၄၂၆ |

(ခ) ကုန်ကြမ်း သုံးစွဲမှု နှင့်စပ်လျဉ်း၍ မြန်မာ့သစ်လုပ်ငန်းထံတွင် လက်ရှိအခြေအနေအရ သစ်မာနှစ်စဉ် တောထွက်ခွင့်ပြုပမာဏများပြားသဖြင့် အဆိုပြုလွှာပါ လိုအပ်ချက်ကို အိတ်ဖွင့်တင်ဒါတွင် ဝယ်ယူရရှိနိုင်သော်လည်း ရေရှည်တွင် ကုန်ကြမ်းသုံးစွဲမှု သေချာရေရာစေရန်အတွက် ကုမ္ပဏီပိုင် စိုက်ခင်းများ ထူထောင်သွားရန် ဖြစ်ပါကြောင်း မြန်မာ့သစ်လုပ်ငန်းမှ သဘောထားပြန်ကြားထားပါသည်။

၁၆။ သို့ဖြစ်ပါ၍ Myanmar Rice Trading Co, Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်တွင် သစ်ပါးလွှာ(Veneer)၊ အထပ်သား (Plywood)နှင့် သစ်အခြေခံ ပစ္စည်းအမျိုးမျိုး ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ အဖွဲ့ဝင်)

မိတ္တူ
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ် ၊ ၂ / ၃ - ၆ ( ၅ ) / စီး ပွား

ရက် စွဲ ၊ ၂၀၁၃ ခုနှစ် ၊ စက်တင်ဘာလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂. ၈. ၂၀၁၃ ရက်စွဲပါစာအမှတ် ၊ ရက-၆(က)/ မ - ၁၃၅၉ / ၂၀၁၃ ( ၉၄၉၇ - ဃ )

၁။ Myanmar Rice Trading Co., Ltd သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်(၄၉)၊ မြေကွက်အမှတ်(၈၂၊ ၈၃၊ ၈၄၊ ၈၅၊ ၈၆၊ ၈၇၊ ၈၈)တို့ရှိမြေဧရိယာ(၂၀. ၁၈၉)ဧကတွင် သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြား လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက လုပ်ငန်းဆောင်ရွက်ချိန်ဝန်ထမ်း (၃၅၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်း လုပ်ကိုင်မှုအပေါ် ဒေသခံပြည်သူများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင်စီမံ ဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၁၂. ၉. ၂၀၀၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၃)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၇)အရ အရ Myanmar Rice Trading Co., Ltd ၏ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်းတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Myanmar Rice Trading Co., Ltd
လက်ခံစာတွဲ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

ပ.1007
13.9.13

စာအမှတ် ၂/၂၂၀(ခ)(၆)/(၆၂၆၉/၂၀၁၃)

ရက်စွဲ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Myanmar Rice Trading Co.Ltd မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၈-၂၀၁၃ ရက်စွဲပါစာအမှတ်-ရက - ၆ (က) / မ - ၁၃၅၉ / ၂၀၁၃ (၉၄၉၇-၀)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Myanmar Rice Trading Co., Ltd. သို့ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၈၂, ၈၃, ၈၄, ၈၅, ၈၆, ၈၇, ၈၈)တို့ရှိ မြေဧရိယာ(၂၀.၁၈၉)ဧကတွင် သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြထားပြီး ကျွန်းသစ်၊ သစ်မာစသည့် သစ်များအား ခေတ်မီစက်ကိရိယာများနှင့် ခေတ်မီနည်းပညာများပေါင်းစပ်လျှက်သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အခြေခံပစ္စည်းများကိုထုတ်လုပ်ဖြန့်ဖြူးသွားမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။

၃။ သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့်သစ်အခြေခံကုန်ပစ္စည်းထုတ်လုပ်ခြင်း လုပ်ငန်းတွင် ဓါတုဗေဒပစ္စည်းများအား သုံးစွဲရန်လိုအပ်မည်ဖြစ်ပါသဖြင့် အဆိုပါကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိရေ၊ လေ၊ မြေညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံဧရိယာအနီးပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ ကုန်ပစ္စည်းထုတ်လုပ်ရာတွင်

အသုံးပြုမည့် ဓါတုဗေဒပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ Myanmar Rice Trading Co., Ltd. မှ သစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာ့သစ်လုပ်ငန်းနှင့် နောက်ဆက်တွဲ(က)နှင့် (ခ)ပါအတိုင်း ဆောင်ရွက်ပေးနိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၅။ ထို့အပြင် ကုမ္ပဏီမှရေရှည်တွင် ကုန်ကြမ်းရရှိရေးခိုင်မာစေရန် ပုဂ္ဂလိကပိုင် သစ်တောစိုက်ခင်း တည်ထောင်မည့် စီမံချက်ကို ရေးဆွဲတင်ပြထားပြီး သစ်ပါးလွှာစက်တွင် စက်ပစ္စည်း (၂၇)မျိုး (၆၃)ခု Band Saw (၄)မျိုး (၅)လက် နှင့် သစ်ဖြတ်လွှဝိုင်း (၃)မျိုး (၆)ဝိုင်း၊ လွှသွေးစက် (၆)မျိုး (၁၂)ခု တို့ကို တပ်ဆင်ဆောင်ရွက်မည်ဖြစ်ကြောင်း စီစစ်တွေ့ရှိရပါသည်။ ကုန်ကြမ်းအနေဖြင့် မြန်မာ့သစ်လုပ်ငန်းမှ နည်းလမ်း(၅)သွယ်ဖြစ်သည့် လစဉ် မြန်မာ့သစ်လုပ်ငန်းရုံးချုပ်တွင် အိတ်ဖွင့်တင်ဒါ(၃)ကြိမ်တွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူခြင်း၊ နယ်တွင် ပြည်ပရောင်းတန်းမဝင်သစ်များအား Exsite Open Tender ဖြင့် လွတ်လပ်စွာယှဉ်ပြိုင်ဝယ်ယူနိုင်ခြင်း၊ ပြည်ပရောင်းတန်းဝင်သစ်များအား FOB ဈေးဖြင့် ဝယ်ယူနိုင်ခြင်း၊ ရန်ကုန်/နယ်သစ်ဆိပ်များတွင် လွတ်ကင်းလက်ကျန်သစ်လုံးများ ဝယ်ယူနိုင်ခြင်း၊ သစ်အလုံးလိုက်တင်ပို့မှု ရပ်ဆိုင်းပြီးနောက် ထွက်ရှိသစ်အားလုံးကို သစ်အခြေခံစက်မှုလုပ်ငန်းရှင်များအတွက် ဖြည့်ဆည်းသွားမည်ဖြစ်ခြင်းတို့ကြောင့် စက်ရုံအတွက် ကုန်ကြမ်းအား ရရှိနိုင်မည်ဖြစ်ကြောင်း၊ မြေနေရာမှန်ကန်မှုရှိကြောင်းနှင့် တပ်ဆင်မည့်စက်ပစ္စည်းများ စုဆောင်းထားရှိပြီးဖြစ်ကြောင်း စီစစ်တွေ့ရှိရပါသည်။

၆။ သို့ဖြစ်၍ သစ်ခွဲသား၊ သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့်သစ်အခြေခံကုန်ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများထည့်သွင်းဆောင်ရွက်ရန်၊

(ခ) သစ်ခွဲသား၊ သစ်ပါးလွှာ၊ အထပ်သားများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁-၂၀၁၃ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁/၂၀၁၃ အရ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းစီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အားရေးဆွဲ၍ အဆိုပါအစီအစဉ်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သစ်ပါးလွှာနှင့်အထပ်သား ထုတ်လုပ်ရာတွင် အသုံးပြုမည့် စက်ပစ္စည်းကိရိယာများ၊ သစ်ခွဲစက်၊ သစ်ပါးလွှာစက်များအား သစ်တောဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ သက်ဆိုင်ရာ သစ်တောဦးစီးဌာနတို့ ခွင့်ပြုမိန့်လိုင်စင်လျှောက်ထားရန်၊

(င) နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေတို့နှင့် အခြားပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

Myanmar Rice Trading Co., Ltd. မှ သစ်ပါးလွှာ ၊ အထပ်သားနှင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ မြန်မာ့သစ်လုပ်ငန်း၏ သဘောထား မှတ်ချက်များ တင်ပြချက်။

(က) ကုန်ကြမ်းသုံးစွဲမှုအတွက် မြန်မာ့သစ်လုပ်ငန်း မှ အပြည့်အဝ ပေးနိုင်ခြင်း ရှိ - မရှိ

(၁) ကုန်ကြမ်းဖြည့်ဆည်းမှုနှင့် ပတ်သက်၍ မြန်မာ့သစ်လုပ်ငန်း အနေဖြင့် အိတ်ဖွင့်တင်ဒါ စနစ်ဖြင့် ဖြည့်ဆည်းရောင်းချပေးလျှက်ရှိပါသည်။စက်ရုံများအတွက် စက်မှုကုန်ကြမ်း သစ်လုံးလိုအပ်ချက် အား နောက်ဆက်တွဲ(ခ)ပါနည်းလမ်းများဖြင့် ဝယ်ယူရရှိနိုင်မည် ဖြစ်ပါသည်။အပြည့်အဝ ပေးနိုင်ခြင်း ရှိ - မရှိမှာ နိုင်ငံပိုင် သစ်တောများမှ နှစ်စဉ် တောထွက်ခွင့်ပြုပမာဏ ၊ ပြည်တွင်း/ပြည်ပ ဈေးကွက်လိုအပ်ချက်များ ၊ ထုတ်လုပ်မှု ကုန်ကျစရိတ်နှင့် သဘာဝပတ်ဝန်းကျင်ဆိုင်ရာ အခြေအနေများအပေါ် မူတည်၍ Open Tender (အိတ်ဖွင့်တင်ဒါ) စနစ်ဖြင့် ဖြည့်ဆည်း ရောင်းချပေးပါမည်။

(၂) ရေရှည်တွင် ကုန်ကြမ်းသုံးစွဲမှု သေချာစေရန်အတွက် ကုမ္ပဏီပိုင် သစ်တောစိုက်ခင်းများ ထူထောင်စိုက်ပျိုး အသုံးပြုသွားရမည်ဖြစ်ပါသည်။

(ခ ) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အမျိုးအစား ညီညွတ်မှု ရှိ - မရှိ

(၁) ကုန်ချောထွက်ရှိမှုတွင် ကျွန်းအတွက် (၅၅%) နှင့် သစ်မာအတွက် (၇၀%) ဖော်ပြထားရာ ကောင်းမွန်သော ကုန်ချောထွက်ရှိမှု ရာခိုင်နှုန်းဖြစ်ပါသည်။သို့သော် ကျွန်းနှင့် သစ်မာကုန်ကြမ်း သစ်လုံးများမှာမူ အတန်းအစား(Grading) မြင့် သစ်လုံးများ ဖြစ်ရန် လိုအပ်ပါသည်။

(၂) အဆိုပြုလွှာတွင် ဖော်ပြထားသော ကုန်ချောထွက်ရှိမှု ရာခိုင်နှုန်း ရရှိရန်အတွက် အတန်းအစား (Grading) မြင့် သစ်လုံးကုန်ကြမ်း ရရှိရေးအတွက် ကုမ္ပဏီမှ အထူးကြိုးပမ်းဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အားအချိုး ညီညွတ်မှု ရှိ - မရှိ

(၁) အဆိုပြုလွှာတွင် ဖော်ပြထားသော ဝန်ထမ်း(၃၆၀) ဦးသည် ကုန်ကြမ်းလိုအပ်ချက် (၂၂၀၀၀) ခန့်ကို အပြည့်အဝ ရရှိပြီး စက်စွမ်းအားပြည့် လည်ပတ်မည်ဆိုပါက အလုပ်လုပ်ချိန်(၈) နာရီ (၁ - လှည့်) အတွက် လုံလောက်သော အချိုးအစားရှိသည့် ဦးရေဖြစ်ပါသည်။လိုအပ်ပါက အချိန်ပိုနာရီ ဆောင်ရွက်ခြင်းဖြင့် ဆောင်ရွက်နိုင်ပါသည်။

(၂) အကယ်၍ အလုပ်ချိန်(၈) နာရီ (၂ - လှည့်) သို့ (၃ - လှည့်) ဖြင့် ထုတ်လုပ်မှု ဆောင်ရွက်မည် ဆိုပါကမူ ဝန်ထမ်းဦးရေ ထပ်မံလိုအပ်မည်ဖြစ်ပါသည်။

(၃) တင်ပြထားသည့် ကုန်ချောထွက်ရှိမှုနှုန်း ကျွန်း(၅၅%) ၊ သစ်မာ(၇၀%) ရရှိနိုင်ရန်အတွက် အတန်းအစား(Grading) မြင့်သော ကုန်ကြမ်းသစ်လုံးကို အထူးကြိုးပမ်း ရှာဖွေဖြည့်ဆည်း ရမည်ဖြစ်ရာ အဆိုပြုလွှာတွင် ဖော်ပြထားသော 10 Wheel Truck တွင် ထပ်မံ၍ (၁) စီး တိုးရန်နှင့် ကုန်ထုတ်လုပ်မှု မြန်ဆန်သွက်လက်စေရန် Fork-lift တွင် နောက်ထပ် (၁) စီး တိုးမြှင့်ရန် လိုအပ်ပါသည်။

(ဃ) <u>ထုတ်လုပ်မှုနှုန်းများ တင်ပြထားမှုနှင့် ဈေးနှုန်းတင်ပြထားမှု ဆီလျော်မှု ရှိ - မရှိ</u>

(၁) ထုတ်လုပ်မှုနှုန်းများနှင့် ပတ်သက်၍ အပိုဒ်(ခ) တွင် တင်ပြထားသည့်အတိုင်းဖြစ်ပါသည်။

(၂) ဈေးနှုန်းများနှင့် ပတ်သက်၍ လက်ရှိ နိုင်ငံတကာ ဈေးကွက်တွင် ဖြစ်ပေါ်နေသော အခြေအနေများအရ ဆီလျော်မှုရှိပါသည်။အထူးသဖြင့် သစ်ပါးလွှာနှင့် အထပ်သားတို့မှာ သက်ဆိုင်ရာ ဝယ်သူမှ ထပ်မံတန်ဖိုးမြှင့်တင်ရာတွင် သုံးစွဲမည့် (Business Products)များ ဖြစ်၍ အပြောင်းအလဲ လွန်စွာမရှိနိုင်ဘဲ တည်ငြိမ်မှုရှိနိုင်ပါသည်။

(၃) အဆိုပြုလွှာတွင် ဖော်ပြထားသော ထုတ်ကုန်များဖြစ်သည့် S4S ၊ T & G ၊ Lumberparquet တို့အပြင် တံခါးနှင့် ပရိဘောဂများကဲ့သို့ တန်ဖိုးမြင့် ထုတ်ကုန်များထုတ်၍ End Use Market သို့ ဝင်ရောက်နိုင်ရန် ဆောင်ရွက်သင့်ပါသည်။သို့မှသာ ဈေးနှုန်းပိုမိုကြီးမြင့်လာနိုင်ပြီး ကုမ္ပဏီ၏ ဝင်ငွေနှင့် အရှုံးအမြတ်ကို အထောက်အကူပေးနိုင်မည်ဖြစ်ပါသည်။

နောက်ဆက်တွဲ
(ခ)

သစ်အခြေခံစက်မှုလုပ်ငန်း စက်ရုံများအတွက် စက်မှုကုန်ကြမ်း သစ်လုံးလိုအပ်ချက်အား အောက်ဖော်ပြပါ နည်းလမ်းများဖြင့် ဖြည့်ဆည်း ဆောင်ရွက်နိုင်ပါသည်-

(က) လစဉ် မြန်မာ့သစ်လုပ်ငန်းရုံးချုပ်တွင် ကျွန်း/သစ်မာသစ်လုံး၊ ခွဲသား အိတ်ဖွင့် တင်ဒါ (၃)ကြိမ် တွင်ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါသည်။

(ခ) နယ်တွင် ပြည်ပရောင်းတန်းမဝင် အင်/ကညင် သစ်အားလုံး ကို Ex-site Open Tender ဖြင့်လည်းကောင်း၊ ဖမ်းဆီးနှင့် နှစ်ဟောင်းသစ်မျိုးစုံကို Ex-site Open Tender ဖြင့်လည်းကောင်း၊ ရောင်းချပေးလျက်ရှိရာ လွတ်လပ်စွာ ယှဉ်ပြိုင် ဝယ်ယူ နိုင်ပါသည်။

(ဂ) ပြည်ပရောင်းတန်းဝင် ကျွန်း/သစ်မာအားလုံးကိုလည်း FOB ဈေးဖြင့် ရွေးချယ် ဝယ်ယူပြီး Reprocess လုပ်နိုင်ပါသည်။

(ဃ) ရန်ကုန်/နယ်သစ်ဆိပ်များရှိ လွတ်ကင်းလက်ကျန်သစ်လုံး များအား စက်မှုကုန်ကြမ်း အသုံးပြုလိုပါက ဖြည့်ဆည်းရောင်းချပေးပါသည်။

(င) ၂၀၁၄ ခုနှစ်၊ ဧပြီလ (၁) ရက်နောက်ပိုင်း သစ်အလုံးလိုက် တင်ပို့မှုရပ်ဆိုင်းပြီးပါက ထုတ်လုပ် ထွက်ရှိလာသော သစ်အားလုံးကို သစ်အခြေခံ စက်မှု လုပ်ငန်းရှင်များ အတွက်စက်မှုကုန်ကြမ်းနှင့်ပြည်တွင်းသုံးသစ်အဖြစ်သာ ဖြည့်ဆည်းပေးသွားပါမည်။

MIC 585
12/9.




# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY

**Hlaing Universities' Campus, Hlaing Township, Yangon, Myanmar**

**Tel : 95-1-519673 ~ 76, Fax : 95-1-519681**

**E-mail:mes@mptmail.net.mm, Website: www.mes.org.mm**


-1000
13.9.13

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

စာအမှတ် ၊ မအသ / MIC / ၈၀၂ / ၂၀၁၃။

ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ၊ ( ၇ ) ရက်။

အကြောင်းအရာ။ **။ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်(၄၉)တွင် တည်ဆောက်မည့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ(၂၂)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၃၅၉/ ၂၀၁၃ (၉၄၉၇-စ)

၁။ အထက်ဖော်ပြပါအကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Myanmar Rice Trading Co.,Ltd မှ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ(၂၂)ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်(၄၉)တွင် တည်ဆောက်မည့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့်ပက်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သောလမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင်ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပက်သက်၍ (၂၆-၈-၂၀၁၃)မှ (၆-၉-၂၀၁၃) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦ အတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများ၊ ရေသန့်မိလ္လာပစ္စည်းများ၊ လျှပ်စစ်ပိုင်းဆိုင်ရာပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ ပြည်ပမှတင်သွင်းမည့်စာရင်းတွင် အဓိကပစ္စည်းများဖြစ်သော ဘိလပ်မြေနှင့် သံချောင်းလုံးများကို ထည့်သွင်း ဖော်ပြထားခြင်းမရှိပါကြောင်း တင်ပြအပ်ပါသည်။

မှတ်ချက်။ ။ ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

လေးစားစွာဖြင့်

(ဝင်းနိုင်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Myanmar Rice Trading Co.,Ltd
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ

